





# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊မနသ- ၁၀၅၅/၂၀၁၅ ။ ၂၀၁၅ ခုနှစ်၊ မေလ ၁၃ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးရဲမြင့် (ခ) ဦးရဲထွန်း

(ခ) **အဘ အမည်** ဦးလူဝ

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/ဒဂန (နိုင်) ၀၂၃၂၃၁

(ဃ) **နေရပ်လိပ်စာ** အမှတ် ၁၃၂-စီ၊ စိမ်းလဲ့ကန်သာလမ်း၊ အမှတ် (၉) ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** Sinminn Cement Industry Company Limited (ဆင်မင်းဘိလပ်မြေစက်မှုလက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** ဘိလပ်မြေထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ ဖျောက်ဆိပ်ပင်ကျေးရွာအနီး ကားလမ်း မိုင်တိုင်အမှတ် (၇/၃) နှင့် (၈/၀) အကြား၊ နွားလည်ကောက်တောင်ခြေအနီးရှိ မြေဧရိယာ ၂၅ ဧက (၁၀၁,၁၇၀.၅၀ စတုရန်းမီတာ)

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ်သန်း ၄၀,၅၃၃.၇၄၉၉ (US$ ၃၃.၅၀သန်း အပါအဝင် ကျပ် သန်းပေါင်း လေးသောင်း ငါးရာ သုံးဆယ့်သုံးနှင့် ခုနှစ်သိန်း လေးသောင်း ကိုးထောင် ကိုးရာတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်






ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၄၅ / ၂၀၁၅(မနသ)

၂၀၁၅ ခုနှစ် မေလ ၁၄ ရက်

၁။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ ၆၀ % နှင့် ရွှေဘိလပ်မြေကုမ္ပဏီလီမိတက်မှ ၄၀ % ထည့်ဝင်ကာ ဆင်မင်း (၂) ဘိလပ်မြေစက်ရုံအား Sinminn Cement Industry Company Limited (ဆင်မင်းဘိလပ်မြေ စက်မှုလက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်) အမည်ဖြင့် မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ ဖျောက်ဆိပ်ကျေးရွာအနီး၊ ကားလမ်းမိုင်တိုင်အမှတ် (၇/၃) နှင့် (၈/၀) အကြား နွားလည်ကောက်တောင်ခြေအနီး မြေဧရိယာ ၁၀၁,၁၇၁.၅၀ စတုရန်းမီတာ (၂၅ ဧက) တွင် ဘိလပ်မြေ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်ကို ၂၀၁၅ ခုနှစ် ဧပြီလ ၂၈ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၇/၂၀၁၅) အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Sinminn Cement Industry Company Limited (ဆင်မင်းဘိလပ်မြေ စက်မှုလက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်) ကို ဘိလပ်မြေ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၁၀၅၅/၂၀၁၅ ကို ထုတ်ပေးလိုက်သည်။

၂။ Sinminn Cement Industry Company Limited (ဆင်မင်းဘိလပ်မြေ စက်မှုလက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း (၁၁) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသောအမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(ဃ) အရ လုပ်ငန်းက ထုတ်လုပ်သည့်ပစ္စည်းကို ပြည်ပသို့ တင်ပို့ရောင်းချလျှင် ထိုသို့တင်ပို့ရောင်းချ၍ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်းအထိ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၅)နှစ် ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ)ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကိုယင်းသို့ အရှုံးပေါ်ပေါက်သည့်နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င )ဥပဒေပုဒ်မ ၂၀ (ဆ) အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ်အသုံးပြုရန် လိုအပ်၍ တင်သွင်းသော ယာဥ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်းအခွန်အကောက်များဖြစ်စေ၊ နှစ်မျိုးစလုံးဖြစ်စေ၊ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ)ဥပဒေပုဒ်မ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဥ်ယန္တရား၊ စက်ပစ္စည်းကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံးအခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ)ဥပဒေပုဒ်မ၂၀(ဈ)အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ်အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များ ဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဇ)ဥပဒေပုဒ်မ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဥ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဈ) ဥပဒေပုဒ်မ ၂၀(မ)အရ ပြည်ပသို့တင်ပို့ရန် ထုတ်လုပ်သည့် ပစ္စည်းများအပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀ (ဆ) အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှုစသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာအသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Sinminn Cement Industry Company Limited (ဆင်မင်းဘိလပ်မြေ စက်မှုလက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည် ဖော်ရန်နှင့် အဆိုပြုလွှာတွင် တင်ပြထားသည့် British Standard 12-1996 နှင့်အညီ ထုတ်လုပ်ရမည်။

၅။ Sinminn Cement Industry Company Limited (ဆင်မင်းဘိလပ်မြေ စက်မှုလက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစု ထားရှိရမည်။

၆။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်နှင့် ရွှေဘိလပ်မြေကုမ္ပဏီလီမိတက်တို့ အကျိုးတူပူးပေါင်းမှုအတွက် ချုပ်ဆိုမည့် ဖက်စပ်သဘောတူစာချုပ်ပါ စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်ရမည်။

၇။ ဖက်စပ်သဘောတူစာချုပ်သက်တမ်းမှာ စာချုပ်အတည်ဖြစ်သည့်နေ့မှစတင်၍ နှစ် ၃၀ ကာလဖြစ်ပြီး စာချုပ်ဝင်များ၏ သဘောတူညီချက်အရ အထက်အဖွဲ့အစည်းများ၏ ခွင့်ပြုချက်ဖြင့် နောက်ထပ် ၅ နှစ် ၃ ကြိမ် သက်တမ်းတိုးမြှင့်နိုင်သည်။

၈။ Sinminn Cement Industry Company Limited (ဆင်မင်းဘိလပ်မြေ စက်မှုလက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်) သည် အစုရှယ်ယာလွှဲပြောင်းရောင်းချရာတွင် ရောင်းချမည့် အစုရှယ်ယာရှင်သည် အခြားမည်သည့်ပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းထံသို့ အစုရှယ်ယာလွှဲပြောင်းရောင်းချမည့် အကြောင်းချင်းရာ အချက်အလက်များကို ကျန်အစုရှယ်ယာရှင်ထံ ရှေးဦးကြိုတင် တင်ပြသဘောတူ အတည်ပြုချက်ရယူရမည်။

၉။ Sinminn Cement Industry Company Limited (ဆင်မင်းဘိလပ်မြေ စက်မှုလက်မှု လုပ်ငန်း ကုမ္ပဏီလီမိတက်) ၏ စာချုပ်ဝင်တစ်ဦးဦးသည် ကုမ္ပဏီသို့ ထည့်ဝင်ရမည့် အစုရှယ်ယာ၊ ငွေကြေးများအတွက် ချေးငွေရယူခဲ့ပါက ယင်းသို့ ချေးယူငွေရင်းနှင့် အတိုးများကို ပေးဆပ်ရန် ကိစ္စရပ်မှာ စာချုပ်ဝင်၏ တာဝန်သာဖြစ်သည်။

၁၀။ Sinminn Cement Industry Company Limited (ဆင်မင်းဘိလပ်မြေ စက်မှုလက်မှု လုပ်ငန်း ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာ့စီးပွားရေးဦးပိုင် လီမိတက်နှင့် ရွှေဘိလပ်မြေကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့် ဖက်စပ်သဘောတူစာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များအား ထမ်းဆောင်ပြီးသည့်အခါ ယင်း သဘောတူ စာချုပ် မိတ္တူ (၅) စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၁၁။ Sinminn Cement Industry Company Limited (ဆင်မင်းဘိလပ်မြေ စက်မှုလက်မှု လုပ်ငန်း ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း လုပ်ငန်း (Environmental Impact Assessment-EIA) နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)တို့ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက် ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန တို့သို့ ပေးပို့အစီရင်ခံရမည်။

၁၂။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာလိုက်နာဆောင်ရွက် ရမည်။

၁၃။ Sinminn Cement Industry Company Limited (ဆင်မင်းဘိလပ်မြေ စက်မှုလက်မှု လုပ်ငန်း ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမား များ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမားဆက်ဆံ ရေး ပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၄။ Sinminn Cement Industry Company Limited (ဆင်မင်းဘိလပ်မြေ စက်မှုလက်မှု လုပ်ငန်း ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာ၌ မီးဘေး အန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီ အမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီး ဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ

လိုက်နာဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေးလုပ်ငန်း သုံးပစ္စည်း များကို အသုံးပြုတတ်စေရန် သင်တန်းများပေးရမည်။

၁၅။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၆။ Sinminn Cement Industry Company Limited (ဆင်မင်းဘိလပ်မြေ စက်မှုလက်မှု လုပ်ငန်း ကုမ္ပဏီလီမိတက်) သည် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ မန္တလေးတိုင်းဒေသကြီးစက်မှု ကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိဆောင်ရွက်ရမည်။

၁၇။ Sinminn Cement Industry Company Limited (ဆင်မင်းဘိလပ်မြေ စက်မှုလက်မှု လုပ်ငန်း ကုမ္ပဏီလီမိတက်) သည် ကနဦးလုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး) လ အတွင်း ဤကော်မရှင် သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃) လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၈။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာ နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၉။ Sinminn Cement Industry Company Limited (ဆင်မင်းဘိလပ်မြေ စက်မှုလက်မှု လုပ်ငန်း ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၂၀။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင် တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၂၁။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၃ / မ- ၁၁၃၅/ ၂၀၁၅ (၆၄၄-၁)
ရက်စွဲ၊ ၂၀၁၅ ခုနှစ် မေလ ၁၃ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ပြည်ထဲရေးဝန်ကြီးဌာန

ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန

ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ် (၂) အကြီးစားစက်မှုလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ဥက္ကဋ္ဌ၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

အုပ်ချုပ်မှုဒါရိုက်တာ၊ Sinminn Cement Industry Company Limited (ဆင်မင်းဘိလပ်မြေ စက်မှုလက်မှု လုပ်ငန်း ကုမ္ပဏီလီမိတက်)

အကြောင်းအရာ။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်နှင့် ရွှေဘိလပ်မြေ ကုမ္ပဏီလီမိတက်တို့ အကျိုးတူပူးပေါင်း၍ ဆင်မင်းဘိလပ်မြေစက်မှုလက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် တည်ထောင်ပြီး ဘိလပ်မြေ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - ဆင်မင်းဘိလပ်မြေစက်မှုလက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်<br>- ဦးရဲမြင့် (ခ) ဦးရဲထွန်း |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု<br>- မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် ၆၀ %<br>- ရွှေဘိလပ်မြေကုမ္ပဏီလီမိတက် ၄၀ % |
| | လုပ်ငန်းအမျိုးအစား | - ဘိလပ်မြေထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည် မြို့နယ်၊ ဖျောက်ဆိပ်ကျေးရွာအနီး ကားလမ်းမှတ်တိုင် (၇/၃) နှင့် (၈/၀) အကြား နွားလည်ကောက် တောင်ခြေအနီး |
| | မြေအကျယ်အဝန်း | - မြေဧရိယာ ၁၀၁,၁၇၁.၅၀ စတုရန်းမီတာ (၂၅ ဧက) |
| | မြေပိုင်ရှင် | - မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် |
| ၃။ | နှစ်စဉ်မြေနှင့် အဆောက်အဦငှားရမ်းခ | - ကျပ် ၇.၉၇၁.၇၄၉ သန်း<br>- တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၅.၅ နှုန်းဖြစ်ပါသည်။ |
| ၄။ | လုပ်ငန်းသက်တမ်း | - ၃၀ နှစ် |
| | တည်ဆောက်ရေးကာလ | - ၁၈ လ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br>ထည့်ဝင်သည့် အမျိုးအစား | |

| | | မြန်မာ့စီးပွားရေး ဦးပိုင်လီမိတက် (ကျပ် သန်း) | ရွှေဘိလပ်မြေ ကုမ္ပဏီလီမိတက် US$ (သန်း) | စုစုပေါင်း (ကျပ် သန်း) |
|---|---|---|---|---|
| | ငွေသား | ၇.၉၇၁.၇၄၉၉ | ၀.၃၀၀၀ | ၈,၂၆၃.၃၄၉၉ |
| | စက်နှင့်စက်ပစ္စည်း | | ၉.၂၀၀၀ | ၃၂,၂၇၀.၄၀၀၀ |
| | ချေးငွေ (စက်နှင့် စက်ပစ္စည်း) | | ၂၄.၀၀၀၀ | |
| | **စုစုပေါင်း** | **၇.၉၇၁.၇၄၉၉** | **၃၃.၅၀၀၀** | **၄၀,၅၃၃.၇၄၉၉** |

| | | |
|---|---|---|
| ၆။ | ဝန်ထမ်းအင်အား (ပထမနှစ်) | - **၃၄၅ ဦး** |
| | ပြည်တွင်း | - ၃၃၅ ဦး(ပြည်တွင်းမှ အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး လစာမှာ ကျပ် ၈၅,၀၀၀၊ အမြင့်ဆုံးဝန်ထမ်းတစ်ဦး လစာမှာ ကျပ် ၅၀၀,၀၀၀) |
| | ပြည်ပ | - ၁၀ ဦး (ပြည်ပဝန်ထမ်းတစ်ဦးပုံသေလစာမှာ US$ ၁,၀၀၀) |
| ၇။ | ရောင်းချမည့်စနစ် | - ၂၀ % ပြည်ပသို့ တင်ပို့ခြင်း၊ ၈၀ % ပြည်တွင်းရောင်းချခြင်း |
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမနှစ်) | - ကျပ် ၂၂,၈၂၈.၄၅ သန်း |
| | ကုမ္ပဏီ၏ အသုံးစရိတ် (ဆဋ္ဌမနှစ်) | - ကျပ် ၁၄,၃၄၇.၅၅ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ် (ဆဋ္ဌမနှစ်) | - ကျပ် ၈,၄၈၀.၉၀ သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဋ္ဌမနှစ်)<br>ဝင်ငွေခွန် | - ကျပ် ၂,၈၂၆.၉၇ သန်း (၁ US$ = ၉၇၂ ကျပ်ဖြင့် တွက်ချက်တင်ပြထားပါသည်။) |

| | | |
|---|---|---|
| | အရင်းကြေကာလ | - ၃ နှစ် ၇ လ |
| | အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၂၃.၁၅ % |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ~~၈,၀၀၀ KVA~~ |
| ၁၁။ | ဆဋ္ဌမနှစ် ထုတ်လုပ်မှု | |

| | ပြည်ပပို့ (၂၀%) (Ton) | ပြည်ပ ရောင်းဈေး (US$/Ton) | ပြည်တွင်း ရောင်း (၈၀ %) (Ton) | ပြည်တွင်း ရောင်းဈေး (ကျပ်/Ton) |
|---|---|---|---|---|
| Cement | ၄၈,၀၂၅ | ၉၂.၀၀ | ၂၀၁,၄၅၅ | ၉၂,၀၀၀ |

| | | |
|---|---|---|
| ၁၂။ | အခြား | - ဆင်မင်းဘိလပ်မြေ စက်မှုလက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်၏ MOA နှင့် AOA မူကြမ်း၊ ဒါရိုက်တာ စာရင်းများ၊ နိုင်ငံသားမှတ်ပုံတင်မိတ္တူများ၊ ကုမ္ပဏီမှတ်ပုံတင် လက်မှတ်မိတ္တူတို့ကို တင်ပြထားပါသည်။<br>- ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့် အညီ ပြင်ဆင်ထားသည့် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်နှင့် ဆင်မင်းဘိလပ်မြေ စက်မှုလက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့် ဖက်စပ် စာချုပ် (မူကြမ်း)၊ ရွှေဘိလပ်မြေကုမ္ပဏီလီမိတက် နှင့် M.Y Cement Pte. Ltd. (စင်္ကာပူ)တို့ ချုပ်ဆိုထားသည့် ချေးငွေစာချုပ်၊ ချေးငွေစာချုပ်တွင် ချေးငွေအပေါ် အတိုးနှုန်းမှာ ၂ % နှင့် ချေး ငွေ ပြန်ပေး ဆပ်မည့် အစီအစဉ်ကိုလည်း တင်ပြထားပါသည်။<br>- ကုမ္ပဏီ၏ အမြတ်ငွေထဲမှ CSR အတွက် ၂% သုံးစွဲမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။ ၂ % ၏ ၃၀ % အား ပညာရေးအတွက်လည်း ကောင်း၊ ၃၀ % အား ကျန်းမာရေးအတွက်လည်းကောင်း၊ ၂၀ % အား ပရဟိတလုပ်ငန်းများအတွက်လည်းကောင်း၊ ကျန် ၂၀ % အား မိဘမဲ့ ဂေဟာများအတွက် လည်းကောင်း သုံးစွဲရန် လျာထားပါကြောင်း တင်ပြထားပါသည်။<br>- ငွေရေးကြေးရေး အထောက်အထားအဖြစ် ဦးရဲမြင့်သည် ၂၁-၁၁-၂၀၁၄ နေ့တွင် ကျပ် ၁၉၁.၉၅၃ သန်း ရှိကြောင်း ဧရာဝတီဘဏ် (လှိုင်ဘဏ်ခွဲ(၂)) ၏ ထောက်ခံစာမိတ္တူကို တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာ ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး နိုင်ငံခြားသား မည်သူ တစ်ဦးတစ်ယောက်မှ ပါဝင် ပိုင်ဆိုင်ခြင်းမရှိကြောင်း ဝန်ခံကတိပြုထားပါသည်။<br>- လုပ်ငန်းခွင် သာယာရေး၊ အလုပ်သမားများ သက်သာ ချောင်ချိရေး အစီအစဉ်၊ မီးဘေးကာကွယ်ရေးအတွက် ဆောင်ရွက်ထားရှိမှု အစီအစဉ်များ၊ ဝန်ထမ်းများ၏ တစ်နှစ်လစာကျပ်သိန်း နှစ်ဆယ်ထက်ကျော်လွန်ပါကဝင်ငွေခွန်ထမ်းဆောင်မည်ဖြစ်ကြောင်း နှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိ စေရန် ဆောင်ရွက်ထား ရှိမှု အစီအစဉ်များကိုလည်း တင်ပြ ထားပါသည်။ |

| | | |
|---|---|---|
| | | - မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကိုခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။<br>- ဒါရိုက်တာစာရင်းနှင့် ၁၄-၁၀-၂၀၁၄ နေ့တွင် ကျင်းပခဲ့သော မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်နှင့် ဆင်မင်းဘိလပ်မြေ စက်မှုလက်မှု လုပ်ငန်း ကုမ္ပဏီလီမိတက်တို့၏ အစည်းအဝေးမှတ်တမ်းတို့ကို တင်ပြထားပါသည်။ |

ပြည်ထောင်စုမြန်မာနိုင်ငံအတွင်း မြန်မာနိုင်ငံသားများ

ရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်

အဆိုပြုချက်

ဆင်မင်းဘိလပ်မြေ စက်မှုလက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်

**(Sinminn Cement Industry Co.,Ltd)**

(ဆင်မင်း-၂ ဘိလပ်မြေစက်ရုံ)

(ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်း)




# MYANMA ECONOMIC HOLDINGS LIMITED
## မြန်မာ့စီးပွားရေးဦးပိုင် လီမိတက်

Tel : 397409, 397453, 397458, 397471, 397472
Fax : 95-01-397454

No. 189 / 191, Mahabandoola Road,
Botataung P.O. 11161
Yangon,
Republic of the Union of Myanmar.

Reference No. ၁၅၃၄ /၁၃/၁(၁၁)/ထလင-၁ (ဦးပိုင်) Date ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာလ (၁၀)ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ **Sinminn Cement Industry Co.,Ltd (ဆင်မင်း-၂ ဘိလပ်မြေစက်ရုံ) အား တစ်နေ့တန်(၇၀၀) မှ (၁၀၅၀)တန်သို့ အဆင့်တိုးမြှင့်ထုတ်လုပ်ခြင်း (Up Grading) ပြုလုပ်ခြင်းအတွက် ရင်းနှီးမြှုပ်နှံရန် အဆိုပြုချက်တင်ပြခြင်း**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၆. ၈. ၂၀၁၄)ရက်စွဲပါစာအမှတ်- ရက-၄/ မ-ထွေ/၂၀၁၄(၀၅၂)

၁။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် (MEHL)မှ ပိုင်ဆိုင်သော ဆင်မင်း(၁)(၂)(၃)ဘိလပ်မြေစက်ရုံ၊ ဆဒ္ဒန်စက်အရံပစ္စည်း ထုတ်လုပ်ရေးစက်ရုံ တော်ဝင်ပလတ်စတစ်ရက်ထည်အိတ်စက်ရုံတို့အား မြန်မာနိုင်ငံသားပိုင် ကုမ္ပဏီဖြစ်သည့် ရွှေဘိလပ်မြေကုမ္ပဏီလီမိတက် (Gold Cement Co.,Ltd) တို့ဖြင့် ဖက်စပ်ပြုလုပ်၍ ဆင်မင်းဘိလပ်မြေစက်မှုလက်မှု လုပ်ငန်းကုမ္ပဏီ လီမိတက် (Sinminn Cement Industry Co.,Ltd) ကို ဖွဲ့စည်းတည်ထောင်ပြီး မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဘိလပ်မြေထုတ်လုပ်ရောင်းချခြင်းများ ဆောင်ရွက်မည်ဖြစ်ပါသည်။

၂။ Sinminn Cement Industry Co.,Ltd(SCI) တွင် ကနဦးရင်းနှီးမြှုပ်နှံမှုအနေဖြင့် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ အခြေပစ္စည်းအဖြစ်ထည့်ဝင်ထားသည့် စက်ရုံ(၅)ရုံ၏ မူလပါရင်း ပစ္စည်းတန်ဘိုး USD ၅၄. ၇၅ သန်း ထည့်ဝင်ပြီး Gold Cement Co.,Ltd(GC) မှ USD ၃၆. ၅ သန်း (စက်ပစ္စည်း USD ၃၃. ၂ သန်း၊ ငွေသား USD ၃. ၃ သန်း) ထည့်ဝင်မည်ဖြစ်၍ ရင်းနှီးမြှုပ်နှံမှုအချိုးမှာ MEHL မှ 60% နှင့် GC မှ 40% ဖြစ်ပါသည်။

၃။ ဆင်မင်းဘိလပ်မြေစက်မှုလက်မှုလုပ်ငန်းကုမ္ပဏီလီမိတက် (Sinminn Cement Industry Co.,Ltd) အတွက် ကုမ္ပဏီမှတ်ပုံတင်ခြင်းအား ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာနသို့ လျှောက်ထားခဲ့ရာ မှတ်ပုံတင်အမှတ်-၂၁၉၈/ ၂၀၁၄-၂၀၁၅ ဖြင့် (၁. ၈. ၂၀၁၄)ရက်နေ့တွင် ကုမ္ပဏီမှတ်ပုံတင်ရရှိပြီးဖြစ်ပါသည်။

၄။ ဆင်မင်း(၁)(၂)(၃)ဘိလပ်မြေစက်ရုံ၊ ဆဒ္ဒန်စက်အရံပစ္စည်းထုတ်လုပ်ရေးစက်ရုံ၊ တော်ဝင်ပလတ်စတစ်ရက်ထည်အိတ်စက်ရုံ တို့အနက် ဆင်မင်း(၃)ဘိလပ်မြေစက်ရုံမှာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၃ ခုနှစ်၊ မတ်လ(၂၉)ရက်နေ့ရက်စွဲပါ ခွင့်ပြုမိန့်အမှတ် မနသ-၈၉၉/၂၀၁၃ဖြင့် ခွင့်ပြုချက်ရရှိထားပါသည်။ Sinminn Cement Industry Co.,Ltd (SCI) တည်ထောင်၍ ဘိလပ်မြေထုတ်လုပ်ခြင်းများဆောင်ရွက်ခြင်း

အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ လမ်းညွှန်ချက်ခံယူခဲ့ရာ မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ (၁၉/၂၀၁၄) အစည်းအဝေး မှ " ဆင်မင်း(၁)(၂)တို့အတွက် အဆိုပြုလွှာသီးခြားတင်ပြရန်၊ ဆဒ္ဒန်စက်အရံပစ္စည်း ထုတ်လုပ်ရေးစက်ရုံ၊ တော်ဝင်ပလတ်စတစ်ရက်ထည်အိတ်စက်ရုံတို့ကို ကုမ္ပဏီမှတ်ပုံတင်ရုံးတွင် ရှယ်ယာ အလွှဲအပြောင်းပြုလုပ်ပြီး ဆောင်ရွက်စေရန်" ဆုံးဖြတ်ချက်အား ရည်ညွှန်းစာဖြင့် အကြောင်းကြားလာခဲ့ပါသည်။

၅။ တစ်နေ့လျှင် ဘိလပ်မြေတန်(၇၀၀) ထုတ်လုပ်မှုစွမ်းအားရှိသော ဆင်မင်း(၂)ဘိလပ်မြေစက်ရုံမှာ စက်များ ချို့ယွင်း၍ ထုတ်လုပ်မှုစွမ်းအားကျဆင်းနေခြင်းကို ခေတ်မီစက်ပစ္စည်းအသစ်များဖြင့် အစားထိုး တပ်ဆင်၍ တစ်နေ့လျှင် ဘိလပ်မြေ(၁၀၅၀)တန်သို့ တိုးမြှင့်ထုတ်လုပ်ရေးအဆင့်မြှင့်တင်ခြင်း (Up Grading) ဆောင်ရွက်ရန် SCI မှ ရင်းနှီးမြှုပ်နှံသွားမည်ဖြစ်ပါသည်။ ၎င်းကိစ္စအတွက် Sinminn Cement Industry Co.,Ltd (SCI) ဒါရိုက်တာအဖွဲ့မှ ဆင်မင်း (၂)ဘိလပ်မြေစက်ရုံအား အဆင့်မြှင့်တင်ခြင်းဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရန်ဆုံးဖြတ်ခဲ့ပါသည်။ (မိတ္တူပူးတွဲလျက်)-ပူးတွဲ(က)

၆။ Sinminn Cement Industry Co.,Ltd (SCI) အတွက် ဖက်စပ်စာချုပ်(မူကြမ်း)အား ပြည်ထောင်စု ရှေ့နေချုပ် ရုံးသို့ ဥပဒေအကြံပြုချက်ပေးနိုင်ပါရန် တင်ပြမှုအပေါ် သုံးသပ် အကြံပြုချက်များအတိုင်း ပြင်ဆင် ရေးဆွဲ ဆောင်ရွက်ခဲ့ပြီးဖြစ်ပါသည်။ (မိတ္တူပူးတွဲလျက်)-ပူးတွဲ(ခ)

၇။ သို့ဖြစ်ပါ၍ Sinminn Cement Industry Co.,Ltd (ဆင်မင်း-၂ ဘိလပ်မြေစက်ရုံ)အား တစ်နေ့လျှင် တန်(၇၀၀)ထုတ်လုပ်ခြင်းမှ တန်(၁၀၅၀)တန်သို့ အဆင့်တိုးမြှင့်ထုတ်လုပ်ရေး ရင်းနှီးမြှုပ်နှံခွင့်ပြုပါရန် အဆိုပြုချက်အား တင်ပြအပ်ပါသည်။

မန်နေဂျင်းဒါရိုက်တာ(ကိုယ်စား)
ဦးဝင်းကြည်၊ ဌာနကြီးမှူး
ထုတ်လုပ်မှုလုပ်ငန်းများဌာနကြီး

မိတ္တူကို -

- ရုံးလက်ခံ/မျှော

D/PM/
L H/ 36

SINMINN CEMENT
Industry Co., Ltd.

Building-2, Room-1, Myanmar ICT-Park,
University Hlaing Compus, Yangon, Myanmar.
Tel : (951) 652248, 521504
Fax : (951) 652248
E-mail : myassoco@mptmail.net.mm

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ ။ ။ ၂၀၁၄ ခုနှစ် ၊ ဒီဇင်ဘာ လ ၊ ( ၃ ၁ ) ရက်။

အကြောင်းအရာ။ ။မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များ အကြိုစိစစ်ပေးနိုင်ရန် တင်ပြခြင်း။

အထက်ပါအကြောင်းအရာနှင့်စပ်လျဉ်း၍ ရွှေ ဘိလပ်မြေ ကုမ္ပဏီ လီမိတက် (Gold Cement Co.,Ltd) နှင့် မြန်မာ့စီးပွားရေးဦးပိုင် လီမိတက် (MEHL) တို့ အကျိုးတူပူးပေါင်း၍ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းထားသော ဆင်မင်းဘိလပ်မြေ စက်မှု လက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Sinminn Cement Industry Co.,Ltd) သည် မန္တလေးတိုင်း၊ ကျောက်ဆည်မြို့နယ်၊ ဖျောက်ဆိပ်ကျေးရွာအနီး ကားလမ်း မိုင်တိုင်အမှတ် (၇/၃) နှင့်(၈/၀)အကြား နွားလည်ကောက်တောင်ခြေ အနီးတွင်မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ တည်ဆောက်ထားသော တနေ့တန် (၇၀၀) ကျဆင်မင်း(၂) ဘိလပ်မြေစက်ရုံ အပေါ် ခေတ်မီစက်ကရိယာများထပ်မံဖြည့်စွက် ရင်းနှီးမြှုပ်နှံလျက် တနေ့တန်(၁၀၅၀) ကျ ဘိလပ်မြေစက်ရုံ တည်ထောင်ပြီး အရည်အသွေးကောင်းမွန်သော ဘိလပ်မြေများကိုထုတ်လုပ် ရောင်းချနိုင်ရန် ရည်ရွယ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

သို့ဖြစ်ပါ၍ ကျွန်တော် တို့ ကုမ္ပဏီ၏ အဆိုပြုလွှာကို လိုအပ်သလို စိစစ်ပေးနိုင်ရန် အတွက် အဆိုပြုလွှာ ( ) စုံကို ပေးပို့ တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

U Ye Htut @ U Ye Myint
Managing Director
Sinminn Cement Industry Co., Ltd.

SINMINN CEMENT
Industry Co., Ltd.

Building-2, Room-1, Myanmar ICT-Park,
University Hlaing Compus, Yangon, Myanmar.
Tel : (951) 652248, 521504
Fax : (951) 652248
E-mail : myassoco@mptmail.net.mm

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်။

နေ့စွဲ ။ ။ ၂၀၁၄ ခုနှစ် ၊ ဒီဇင်ဘာ လ ၊ ( ၃၁ ) ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပါတ်သက်၍ ကတိခံဝန်ချက်ပေးပို့ခြင်း။

အထက်ပါအကြောင်းအရာနှင့်စပ်လျဉ်း၍ ရွှေ ဘိလပ်မြေ ကုမ္ပဏီ လီမိတက် (Gold Cement Co.,Ltd) နှင့် မြန်မာ့စီးပွားရေးဦးပိုင် လီမိတက် (MEHL) တို့ အကျိုးတူပူးပေါင်း၍ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ အရ ဖွဲ့စည်းထားသော ဆင်မင်းဘိလပ်မြေ စက်မှု လက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Sinminn Cement Industry Co.,Ltd) သည် မန္တလေးတိုင်း၊ ကျောက်ဆည်မြို့နယ်၊ ဖျောက်ဆိပ်ကျေးရွာအနီး ကားလမ်း မိုင်တိုင်အမှတ် (၇/၃) နှင့်(၈/၀)အကြား နွားလည်ကောက်တောင်ခြေ အနီးတွင်မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ တည်ဆောက်ထားသော တနေ့တန် (၇၀၀) ကျ ဆင်မင်း(၂) ဘိလပ်မြေစက်ရုံ အပေါ် ခေတ်မီစက်ကရိယာများထပ်မံဖြည့်စွက် ရင်းနှီးမြှုပ်နှံလျက် တနေ့တန်(၁၀၅၀) ကျ ဘိလပ်မြေစက်ရုံ တည်ထောင်ပြီး အရည်အသွေးကောင်းမွန်သော ဘိလပ်မြေများကိုထုတ်လုပ် ရောင်းချနိုင်ရန် ရည်ရွယ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့် ကို လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

၎င်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပါသည်။ ၎င်းလုပ်ငန်းတွင် နိုင်ငံခြားမှ နိုင်ငံခြားသားမည်သူမျှ ပိုင်ဆိုင်မှု မရှိပါကြောင်းနှင့် အောက်ပါအချက်များကို သိရှိလိုက်နာမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

၁။ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ် သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းချက်များကို လိုက်နာ ဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

၂။ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ ကြိုတင်ကာကွယ်မှုများပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ကြောင်းနှင့်မီးဘေး အန္တရာယ်အတွက် လိုအပ်သော စီမံထားမှု၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုတင်ပြအပ် ပါသည်။

၃။ စက်ရုံဝန်ထမ်းများ စားသောက်နိုင်ရန်အတွက်ထမင်းစားဆောင် နှင့် ရေအိမ် များလည်းထားရှိပါမည်။

**SINMINN CEMENT**
Industry Co., Ltd.

Building-2, Room-1, Myanmar ICT-Park,
University Hlaing Compus, Yangon, Myanmar.
Tel : (951) 652248, 521504
Fax : (951) 652248
E-mail : myassoco@mptmail.net.mm

၄။ အဆိုပြုလုပ်ငန်း ဆောင်ရွက်မှုအတွက် နိုင်ငံခြားငွေဖြင့် ရရှိသော အခကြေးငွေများကို မြန်မာနိုင်ငံခြားကုန်သွယ်မှုဘဏ်နှင့် မြန်မာရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်ရှိ ကုမ္ပဏီ၏ ငွေစာရင်းသို့ မပျက်မကွက် ပေးသွင်းမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၅။ ထုတ်လုပ်မည့်ပစ္စည်းများကို နိုင်ငံခြားသို့ ၂၀% တင်ပို့ပြီး ပြည်တွင်းတွင် ၈၀% ရောင်းချမည်ဖြစ်ပါသည်။

၆။ ဤအဆိုပြုလွှာသည် စက်ပစ္စည်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၇။ ကုန်ကြမ်းနှင့်ကုန်ချောပစ္စည်းများကို ရေကြောင်း၊ လေကြောင်း ခရီးတို့ဖြင့် တင်ပို့ပါမည်။

၈။ မြန်မာနိုင်ငံတော်မှလျှပ်စစ်ဓါတ်အားကိုရရှိပါကသုံးစွဲမည်ဖြစ်ပြီးလျှပ်စစ်ဓါတ်အားမရရှိသောအချိန်တွင် ကိုယ်ပိုင်မီးစက်ဖြင့် ထားရှိဆောင်ရွက်မည်ဖြစ်ပါသည်။

၉။ ဆင်မင်းဘိလပ်မြေ စက်မှုလက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် အနေဖြင့် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရပြည်နယ်၊ တိုင်း၊ ဒေသန္တရ၊ စက်မှုကြီးကြပ်ရေးနှင့်လုပ်ငန်း စစ်ဆေးမှုညွှန်ကြားရေး ဦးစီးဌာန၏ မှတ်ပုံတင်ထားရှိမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လျှောက်ထားသူ

**U Ye Htut @ U Ye Myint**
**Managing Director**
**Sinminn Cement Industry Co., Ltd.**

SINMINN CEMENT
Industry Co., Ltd.

Building-2, Room-1, Myanmar ICT-Park,
University Hlaing Compus, Yangon, Myanmar.
Tel : (951) 652248, 521504
Fax : (951) 652248
E-mail : myassoco@mptmail.net.mm

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ ။ ။ ၂၀၁၄ ခုနှစ် ၊ ဒီဇင်ဘာ လ ၊ ( ၃၁ ) ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပါတ်သက်၍ ခွင့်ပြုမိန့်ထုတ်ပေးပါရန်နှင့် အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များခံစားခွင့်ပြုပါရန်လျှောက်ထားခြင်း။

၁။ အထက်ပါအကြောင်းအရာနှင့်စပ်လျဉ်း၍ ရွှေ ဘိလပ်မြေ ကုမ္ပဏီ လီမိတက် (Gold Cement Co.,Ltd) နှင့် မြန်မာ့စီးပွားရေးဦးပိုင် လီမိတက် (MEHL) တို့ အကျိုးတူပူးပေါင်း၍ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းထားသော ဆင်မင်းဘိလပ်မြေ စက်မှု လက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Sinminn Cement Industry Co.,Ltd) သည် မန္တလေးတိုင်း၊ ကျောက်ဆည်မြို့နယ်၊ ဖျောက်ဆိပ်ကျေးရွာအနီး ကားလမ်း မိုင်တိုင်အမှတ် (၇/၃) နှင့်(၈/၀)အကြား နွားလည်ကောက်တောင်ခြေ အနီးတွင်မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ တည်ဆောက်ထားသော တနေ့တန် (၇၀၀) ကျ ဆင်မင်း(၂) ဘိလပ်မြေစက်ရုံ အပေါ် ခေတ်မှီစက်ကရိယာများထပ်မံဖြည့်စွက် ရင်းနှီးမြှုပ်နှံလျက် တနေ့တန်(၁၀၅၀) ကျ ဘိလပ်မြေစက်ရုံ တည်ထောင်ပြီး အရည်အသွေးကောင်းမွန်သော ဘိလပ်မြေများကိုထုတ်လုပ် ရောင်းချနိုင်ရန် ရည်ရွယ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

၂။ ရင်းပြင်ကျွန်တော်တို့အနေဖြင့် ဆင်မင်းဘိလပ်မြေ စက်မှုလက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် တည်ထောင်ပြီး ဖော်ပြပါလုပ်ငန်းများဆောင်ရွက်ခြင်းဖြင့် အောက်ပါအခွင့်အလမ်းများရရှိပေါ်ပေါက် နိုင်ပါကြောင်း၊ တဆက်တည်း တင်ပြလိုပါသည်။

(က) အလုပ်အကိုင်အခွင့်အလမ်းများ ပေါ်ပေါက်လာမှု
(ခ) အမျိုးသားဝင်ငွေ တိုးတက်ရရှိနိုင်မည့် အခြေအနေ
(ဂ) နိုင်ငံတော်ကရရှိမည့် ဘဏ္ဍာငွေအခြေအနေ
(ဃ) နိုင်ငံခြားသုံးငွေ လျှော့နည်းသက်သာစေနိုင်မည့် အခြေအနေ
(င) ပြည်တွင်းပြည်ပ ဈေးကွက်ကို ပံ့ပိုးမှုပေးနိုင်မည့် အခြေအနေ တို့ဖြစ်ပါသည်။

၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အနေနှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များပါ ခွင့်ပြုနိုင်ပါရန် လျှောက်ထား တင်ပြအပ်ပါသည်။

၄။ ဤခွင့်ပြုချက်မိန့်တောင်းခံလွှာနှင့်အတူ အောက်ပါ စာရွက်စာတမ်းများကိုပါ နောက်ဆက်တွဲအဖြစ် တင်ပြပါသည်။

(၁) ရင်းနှီးမြှုပ်နှံသူ၏ အဆိုပြုချက်၊
(၂) စီးပွားရေးတွက်ခြေကိုက်မှုရှိ ၊ မရှိတင်ပြချက်များ၊
(၃) ကုမ္ပဏီ၏ ငွေရေးကြေးရေး အထောက်အထားများ၊
(၄) တည်ဆောက်မည့် နေရာပြမြေပုံနှင့် ဆောက်လုပ်မည့် အဆောက်အအုံပုံစံများ၊

လေးစားစွာဖြင့်

U Ye Htut @ U Ye Myint
Managing Director
Sinminn Cement Industry Co., Ltd.

SINMINN
CEMENT
Industry Co., Ltd.

Building-2, Room-1, Myanmar ICT-Park,
University Hlaing Compus, Yangon, Myanmar.
Tel : (951) 652248, 521504
Fax : (951) 652248
E-mail : myassoco@mptmail.net.mm

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ ။ ။ ၂၀၁၄ ခုနှစ် ၊ ဒီဇင်ဘာ လ ၊ ( ၃၁ ) ရက်။

အကြောင်းအရာ။ ။မီးဘေးကြိုတင်ကာကွယ်စီမံချက်ထားရှိမည်ဖြစ်ကြောင်းဝန်ခံကတိပြုခြင်း။

အထက်ပါအကြောင်းအရာနှင့်စပ်လျဉ်း၍ ရွှေ ဘိလပ်မြေ ကုမ္ပဏီ လီမိတက် (Gold Cement Co.,Ltd) နှင့် မြန်မာ့စီးပွားရေးဦးပိုင် လီမိတက် (MEHL) တို့ အကျိုးတူပူးပေါင်း၍ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းထားသော ဆင်မင်းဘိလပ်မြေ စက်မှု လက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Sinminn Cement Industry Co.,Ltd) သည် မန္တလေးတိုင်း၊ ကျောက်ဆည်မြို့နယ်၊ ဖျောက်ဆိပ်ကျေးရွာအနီး ကားလမ်း မိုင်တိုင်အမှတ် (၇/၃) နှင့်(၇/၀)အကြား နွားလည်ကောက်တောင်ခြေ အနီးတွင်မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ တည်ဆောက်ထားသော တနေ့တန် (၇၀၀) ကျဆင်မင်း(၂) ဘိလပ်မြေစက်ရုံ အပေါ် ခေတ်မှီစက်ကရိယာများထပ်မံဖြည့်စွက် ရင်းနှီးမြှုပ်နှံလျက် တနေ့တန်(၁၀၅၀) ကျ ဘိလပ်မြေစက်ရုံ တည်ထောင်ပြီး အရည်အသွေးကောင်းမွန်သော ဘိလပ်မြေများကိုထုတ်လုပ် ရောင်းချနိုင်ရန် ရည်ရွယ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

ကျွန်တော်တို့ကုမ္ပဏီအနေဖြင့် ဘိလပ်မြေများထုတ်လုပ်ခြင်းလုပ်ငန်းလုပ်ကိုင်ရာတွင် မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု့ အနေဖြင့် ရေလှောင်ကန်ကို (၁) ကန်တည်ဆောက်ထား ရှိမည်ဖြစ်ပါသည်။စက်ရုံအဆောက် အအုံမှာလည်း မီးလောင်မှုမှကာကွယ်ရန် ရေပုံး၊ မီးကပ်၊သဲအိတ်၊ မီးသတ်ဘူးများကို အဆင်သင့်ထားရှိမည် ဖြစ်ပါသည်။စက်ရုံရှိ နံရံများတွင် မီးသတ်ဘူးများ ချိတ်ဆွဲထားရှိရမည်ဖြစ်ပါသည်။ထို့ပြင်စက်ရုံတွင် မီးဘေးအန္တရာယ် အတွက် စည်းကမ်းချက်များ ချမှတ်ထားပြီး ယင်းတို့ကို ဝန်ထမ်းများတိကျစွာလိုက်နာ ဆောင်ရွက်ရန်လည်း စီမံထားရှိပါသည်။ဝန်ထမ်းများကိုလည်း မီးဘေး အရေးပေါ် ကာကွယ်နိုင်ရန် မီးသတ်နည်းပညာလေ့ကျင့် သင်ကြား ပေးမည်ဖြစ်ပါ သည်။စက်ရုံအတွင်းနှင့်အနီးပတ်ဝန်း ကျင်တွင် ဆေးလိပ် သောက်ခြင်းကို တင်းကျပ်စွာ တားမြစ်ထားရှိခြင်းနှင့် လျှပ်စစ်နှင့်ပတ်သက်သည့် အန္တရာယ်များ မဖြစ်ပေါ် အောင် လည်းဆောင်ရွက်ထားရှိမည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

U Ye Htut @ U Ye Myint
Managing Director
Sinminn Cement Industry Co., Ltd.

SINMINN CEMENT
Industry Co., Ltd.

Building-2, Room-1, Myanmar ICT-Park,
University Hlaing Compus, Yangon, Myanmar.
Tel : (951) 652248, 521504
Fax : (951) 652248
E-mail : myassoco@mptmail.net.mm

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ ။ ။ ၂၀၁၄ ခုနှစ် ၊ ဒီဇင်ဘာ လ ၊ ( ၃၁ ) ရက်။

အကြောင်းအရာ။ ။စက်ရုံဝန်ထမ်းများသက်သာချောင်ချိရေးနှင့်လုပ်ငန်းခွင် သာယာရေးအတွက် စီစဉ်ဆောင်ရွက်ထားမှုများအားတင်ပြခြင်း။

အထက်ပါအကြောင်းအရာနှင့်စပ်လျဉ်း၍ ရွှေ ဘိလပ်မြေ ကုမ္ပဏီ လီမိတက် (Gold Cement Co.,Ltd) နှင့် မြန်မာ့စီးပွားရေးဦးပိုင် လီမိတက် (MEHL) တို့အကျိုးတူပူးပေါင်း၍ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းထားသော ဆင်မင်းဘိလပ်မြေ စက်မှု လက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Sinminn Cement Industry Co.,Ltd) သည် မန္တလေးတိုင်း၊ ကျောက်ဆည်မြို့နယ်၊ ဖျောက်ဆိပ်ကျေးရွာအနီး ကားလမ်း မိုင်တိုင်အမှတ် (၇/၃) နှင့်(၈/၀)အကြား နွားလည်ကောက်တောင်ခြေ အနီးတွင်မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ တည်ဆောက်ထားသော တနေ့တန် (၇၀၀) ကျဆင်မင်း(၂) ဘိလပ်မြေစက်ရုံ အပေါ် ခေတ်မီစက်ကရိယာများထပ်မံဖြည့်စွက် ရင်းနှီးမြှုပ်နှံလျက် တနေ့တန်(၁၀၅၀) ကျ ဘိလပ်မြေစက်ရုံ တည်ထောင်ပြီး အရည်အသွေးကောင်းမွန်သော ဘိလပ်မြေများကိုထုတ်လုပ် ရောင်းချနိုင်ရန် ရည်ရွယ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

(၁) အလုပ်သမားကြို/ပို့ယာဉ်စီး၍အလုပ်တက်/ဆင်းသည့် ဝန်ထမ်းအလုပ်သမား များအတွက် ကြို/ပို့ ဖယ်ရီကားများ စီစဉ်ထားပြီး ကြိုပို့ဖယ်ရီစီးကြသော အလုပ်သမားများ အပေါ် ကားခ ကောက်ခံခြင်းမရှိဘဲအခမဲ့ပို့ဆောင်ပေးလျက်ရှိပါမည်။

(၂) စက်ရုံတွင် လက်ဖက်ရည်၊ မုန့်နှင့် ထမင်း/ဟင်းရောင်းချသည့် သက်သာဆိုင်တစ်ဆိုင်ဖွင့်လှစ်ထားရှိပါမည်။

(၃) စက်ရုံရှိဝန်ထမ်း/အလုပ်သမားများအနေဖြင့်အလုပ်ဆင်းရက်မှန်ကန်ပါက ရက်မှန်ဆုကြေး များထုတ်ပေးပါမည်။

(၄) စက်ရုံရှိ ဝန်ထမ်းအလုပ်သမားများစက်ရုံတွင် အချိန်ပိုဆင်းရပါက တစ်နာရီအတွက် အချိန်ပိုလုပ်အားခ ထုတ်ပေးပါမည်။

(၅) စက်ရုံတွင်ရှေးဦးသူနာပြုသေတ္တာများနှင့် နာမကျန်းသူများ နားနေခန်း (၂)ခန်းစီစဉ်ထားရှိပါမည်။ထိခိုက်ဒဏ်ရာရရှိပါက လူမှုဖူလုံရေးဆေးခန်းသို့ စေလွှတ်၍ဆေးဝါးကုသမှုခံယူပါမည်။လူမှုဖူလုံရေးထည့်ဝင်ငွေများအားလည်း အလုပ်ရှင်ပိုင်းရော ၊အလုပ်သမား ပိုင်းပါ လစာထည့်ဝင်လျက်ရှိမည်။

လေးစားစွာဖြင့်

U Ye Htut @ U Ye Myint
Managing Director
Sinminn Cement Industry Co., Ltd.

SINMINN CEMENT
Industry Co., Ltd.

Building-2, Room-1, Myanmar ICT-Park,
University Hlaing Compus, Yangon, Myanmar.
Tel : (951) 652248, 521504
Fax : (951) 652248
E-mail : myassoco@mptmail.net.mm

သို့

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ ။ ။ ၂၀၁၄ ခုနှစ် ၊ ဒီဇင်ဘာ လ ၊ ( ၃၁ ) ရက်။

အကြောင်းအရာ။ ။မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်ကြောင်းကတိခံဝန်ချက်။

အထက်ပါအကြောင်းအရာနှင့်စပ်လျဉ်း၍ ရွှေ ဘိလပ်မြေ ကုမ္ပဏီ လီမိတက် (Gold Cement Co.,Ltd) နှင့် မြန်မာ့စီးပွားရေးဦးပိုင် လီမိတက် (MEHL) တို့အကျိုးတူပူးပေါင်း၍ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းထားသော ဆင်မင်းဘိလပ်မြေ စက်မှု လက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Sinminn Cement Industry Co.,Ltd) သည် မန္တလေးတိုင်း၊ ကျောက်ဆည်မြို့နယ်၊ ဖျောက်ဆိပ်ကျေးရွာအနီး ကားလမ်း မိုင်တိုင်အမှတ် (၇/၃) နှင့်(၈/၀)အကြား နွားလည်ကောက်တောင်ခြေ အနီးတွင်မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ တည်ဆောက်ထားသော တနေ့တန် (၇၀၀) ကျဆင်မင်း(၂) ဘိလပ်မြေစက်ရုံ အပေါ် ခေတ်မီစက်ကရိယာများထပ်မံဖြည့်စွက် ရင်းနှီးမြှုပ်နှံလျက် တနေ့တန်(၁၀၅၀) ကျ ဘိလပ်မြေစက်ရုံ တည်ထောင်ပြီး အရည်အသွေးကောင်းမွန်သော ဘိလပ်မြေများကိုထုတ်လုပ် ရောင်းချနိုင်ရန် ရည်ရွယ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

၎င်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများဖြစ်သော ဦးကျော်စိုး ၊ ဦးရဲမြင့် (ခ) ဦးရဲထွန်း ၊ ဦးခင်ညို၊ ဦးတင်ဝင်း၊ ဦးကျော်မြင့်၊ ဒေါ်ဥမ္မာမြင့် နှင့် ဦးစောစိုးဝင်းတို့ ခုနှစ်ဦးဖြင့် ဖွဲ့စည်း တည်ထောင်ထားပါသည်။၎င်းလုပ်ငန်းတွင် နိုင်ငံခြားမှ နိုင်ငံခြားသားမည်သူမျှ ပိုင်ဆိုင်မှု မရှိပါကြောင်းနှင့် ဖြစ်ပေါ်လာမည့် ကိစ္စ အဝဝကိုတာဝန်ယူမည်ဖြစ်ကြောင်း ဝန်ခံကတိပြု အပ်ပါသည်။

လေးစားစွာဖြင့်

U Ye Htut @ U Ye Myint
Managing Director
Sinminn Cement Industry Co., Ltd.

SINMINN CEMENT
Industry Co., Ltd.

Building-2, Room-1, Myanmar ICT-Park,
University Hlaing Compus, Yangon, Myanmar.
Tel : (951) 652248, 521504
Fax : (951) 652248
E-mail : myassoco@mptmail.net.mm

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ ။ ။ ၂၀၁၄ ခုနှစ် ၊ ဒီဇင်ဘာ လ ၊ ( ၃၁ ) ရက်။

အကြောင်းအရာ။ ။ဝန်ခံကတိပြုတင်ပြခြင်း။

အထက်ပါအကြောင်းအရာနှင့်စပ်လျဉ်း၍ ရွှေ ဘိလပ်မြေ ကုမ္ပဏီ လီမိတက် (Gold Cement Co.,Ltd) နှင့် မြန်မာ့စီးပွားရေးဦးပိုင် လီမိတက် (MEHL) တို့ အကျိုးတူပူးပေါင်း၍ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းထားသော ဆင်မင်းဘိလပ်မြေ စက်မှု လက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Sinminn Cement Industry Co.,Ltd) သည် မန္တလေးတိုင်း၊ ကျောက်ဆည်မြို့နယ်၊ ဖျောက်ဆိပ်ကျေးရွာအနီး ကားလမ်း မိုင်တိုင်အမှတ် (၇/၃) နှင့်(၈/၀)အကြား နွားလည်ကောက်တောင်ခြေ အနီးတွင်မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ တည်ဆောက်ထားသော တနေ့တန် (၇၀၀) ကျဆင်မင်း(၂) ဘိလပ်မြေစက်ရုံ အပေါ် ခေတ်မီစက်ကရိယာများထပ်မံဖြည့်စွက် ရင်းနှီးမြှုပ်နှံလျက် တနေ့တန်(၁၀၅၀) ကျ ဘိလပ်မြေစက်ရုံ တည်ထောင်ပြီး အရည်အသွေးကောင်းမွန်သော ဘိလပ်မြေများကိုထုတ်လုပ် ရောင်းချနိုင်ရန် ရည်ရွယ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

လျှပ်စစ်ဓါတ်အားကို -၁၀၀၀ ကေဗွီအေ ထားရှိဆောင်ရွက်သွားပြီး လျှပ်စစ်ဓါတ်အား မရရှိသောအချိန် တွင် ကိုယ်ပိုင်မီးစက်ဖြင့် ထားရှိဆောင်ရွက်မည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

U Ye Htut @ U Ye Myint
Managing Director
Sinminn Cement Industry Co., Ltd.

SINMINN CEMENT
Industry Co., Ltd.

Building-2, Room-1, Myanmar ICT-Park,
University Hlaing Compus, Yangon, Myanmar.
Tel : (951) 652248, 521504
Fax : (951) 652248
E-mail : myassoco@mptmail.net.mm

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ ။ ။ ၂၀၁၄ ခုနှစ် ၊ ဒီဇင်ဘာ လ ၊ ( ၃၁ ) ရက်။

အကြောင်းအရာ။ ။ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ စောင့်ကြည့်လေ့လာမည့် လုပ်ငန်းများအတွက်ရန်ပုံငွေများစီစဉ်ဆောင်ရွက်မှုတင်ပြခြင်း။

၁။ အထက်ပါအကြောင်းအရာနှင့်စပ်လျဉ်း၍ ရွှေ ဘိလပ်မြေ ကုမ္ပဏီ လီမိတက် (Gold Cement Co.,Ltd) နှင့် မြန်မာ့စီးပွားရေးဦးပိုင် လီမိတက် (MEHL) တို့ အကျိုးတူပူးပေါင်း၍ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းထားသော ဆင်မင်းဘိလပ်မြေ စက်မှု လက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Sinminn Cement Industry Co.,Ltd) သည် မန္တလေးတိုင်း၊ ကျောက်ဆည်မြို့နယ်၊ ဖျောက်ဆိပ်ကျေးရွာအနီး ကားလမ်း မိုင်တိုင်အမှတ် (၇/၃) နှင့်(၈/၀)အကြား နွားလည်ကောက်တောင်ခြေအနီးတွင်မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ တည်ဆောက်ထားသော တနေ့တန် (၇၀၀) ကျဆင်မင်း(၂) ဘိလပ်မြေစက်ရုံ အပေါ် ခေတ်မှီစက်ကရိယာများထပ်မံဖြည့်စွက် ရင်းနှီးမြှုပ်နှံလျက် တနေ့တန်(၁၀၅၀) ကျ ဘိလပ်မြေစက်ရုံ တည်ထောင်ပြီး အရည်အသွေးကောင်းမွန်သော ဘိလပ်မြေများကိုထုတ်လုပ် ရောင်းချနိုင်ရန် ရည်ရွယ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

၂။ ဆင်မင်းဘိလပ်မြေ စက်မှုလက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် အနေဖြင့် လုပ်ငန်း လည်ပတ်မှုမှ ရရှိမည်ဟု ခန့်မှန်းထားသည့်အသားတင်အမြတ်ငွေမှ (၂%) ကိုပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာ ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်း အစီအစဉ်များအတွက်စောင့်ကြည့်လေ့လာမည့်လုပ်ငန်းများ ကိစ္စရပ်များတွင် သုံးစွဲနိုင် ပါရန် ရန်ပုံငွေ လျာထားပါကြောင်း တင်ပြအပ်ပါသည်။

| | |
|---|---|
| ပညာရေးလုပ်ငန်း | ၃၀ % |
| ကျန်းမာရေးလုပ်ငန်း | ၃၀% |
| ပရဟိတလုပ်ငန်းများ | ၂၀% |
| မိဘမဲ့ဂေဟာများ | ၂၀% သုံးစွဲမည်ဖြစ်ကြောင်းလျာထားတင်ပြအပ်ပါသည်။ |

လေးစားစွာဖြင့်

U Ye Htut @ U Ye Myint
Managing Director
Sinminn Cement Industry Co., Ltd.

SINMINN CEMENT
Industry Co., Ltd.

Building-2, Room-1, Myanmar ICT-Park,
University Hlaing Compus, Yangon, Myanmar.
Tel : (951) 652248, 521504
Fax : (951) 652248
E-mail : myassoco@mptmail.net.mm

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ ။ ။ ၂၀၁၄ ခုနှစ် ၊ ဒီဇင်ဘာ လ ၊ ( ၃၁ ) ရက်။

အကြောင်းအရာ။ ။ဝန်ခံကတိပြုတင်ပြခြင်း။

အထက်ပါအကြောင်းအရာနှင့်စပ်လျဉ်း၍ ရွှေ ဘိလပ်မြေ ကုမ္ပဏီ လီမိတက် (Gold Cement Co.,Ltd) နှင့် မြန်မာ့စီးပွားရေးဦးပိုင် လီမိတက် (MEHL) တို့ အကျိုးတူပူးပေါင်း၍ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းထားသော ဆင်မင်းဘိလပ်မြေ စက်မှု လက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Sinminn Cement Industry Co.,Ltd) သည် မန္တလေးတိုင်း၊ ကျောက်ဆည်မြို့နယ်၊ ဖျောက်ဆိပ်ကျေးရွာအနီး ကားလမ်း မိုင်တိုင်အမှတ် (၇/၃) နှင့်(၈/၀)အကြား နွားလည်ကောက်တောင်ခြေ အနီးတွင်မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ တည်ဆောက်ထားသော တနေ့တန် (၇၀၀) ကျဆင်မင်း(၂) ဘိလပ်မြေစက်ရုံ အပေါ် ခေတ်မှီစက်ကရိယာများထပ်မံဖြည့်စွက် ရင်းနှီးမြှုပ်နှံလျက် တနေ့တန်(၁၀၅၀) ကျ ဘိလပ်မြေစက်ရုံ တည်ထောင်ပြီး အရည်အသွေးကောင်းမွန်သော ဘိလပ်မြေများကိုထုတ်လုပ် ရောင်းချနိုင်ရန် ရည်ရွယ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်၏ ဆင်မင်း ဘိလပ်မြေ စက်မှုလက်မှု လုပ်ငန်း ကုမ္ပဏီ လီမိတက် တွင်တာဝန်ထမ်းဆောင်နေသော ဝန်ထမ်းများအားလုံးအား လုပ်ခလစာ တစ်နှစ်ရငွေ ကျပ် ၂၀၀၀ ၀၀၀/- (ကျပ်သိန်းနှစ်ဆယ်) အထက် ရရှိသော ဝန်ထမ်းများ၏ဝင်ငွေခွန်ကို သတ်မှတ်ထားသည့် နှုန်းထားများ အတိုင်း ပေးဆောင်သွားမည်ဖြစ်ကြောင်း ဝန်ခံ ကတိပြု အပ်ပါသည်။

လေးစားစွာဖြင့်

U Ye Htut @ U Ye Myint
Managing Director
Sinminn Cement Industry Co., Ltd.

SINMINN CEMENT
Industry Co., Ltd.

Building-2, Room-1, Myanmar ICT-Park,
University Hlaing Compus, Yangon, Myanmar.
Tel : (951) 652248, 521504
Fax : (951) 652248
E-mail : myassoco@mptmail.net.mm

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ ။ ။ ၂၀၁၄ ခုနှစ် ၊ ဒီဇင်ဘာ လ ၊ ( ၃၁ ) ရက်။

အကြောင်းအရာ။ ။ **IEE, EMP Report** နှင့်ပတ်သက်၍ဝန်ခံကတိပြုခြင်း။

အထက်ပါအကြောင်းအရာနှင့်စပ်လျဉ်း၍ ရွှေ ဘိလပ်မြေ ကုမ္ပဏီ လီမိတက် (Gold Cement Co.,Ltd) နှင့် မြန်မာ့စီးပွားရေးဦးပိုင် လီမိတက် (MEHL) တို့ အကျိုးတူပူးပေါင်း၍ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ ဖွဲ့စည်းထားသော ဆင်မင်းဘိလပ်မြေ စက်မှု လက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Sinminn Cement Industry Co.,Ltd) သည် မန္တလေးတိုင်း၊ ကျောက်ဆည်မြို့နယ်၊ ဖျောက်ဆိပ်ကျေးရွာအနီး ကားလမ်း မိုင်တိုင်အမှတ် (၇/၃) နှင့်(၈/၀)အကြား နွားလည်ကောက်တောင်ခြေ အနီးတွင်မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ တည်ဆောက်ထားသော တနေ့တန် (၇၀၀) ကျဆင်မင်း(၂) ဘိလပ်မြေစက်ရုံ အပေါ် ခေတ်မီစက်ကရိယာများထပ်မံဖြည့်စွက် ရင်းနှီးမြှုပ်နှံလျက် တနေ့တန်(၁၀၅၀) ကျ ဘိလပ်မြေစက်ရုံ တည်ထောင်ပြီး အရည်အသွေးကောင်းမွန်သော ဘိလပ်မြေများကိုထုတ်လုပ် ရောင်းချနိုင်ရန် ရည်ရွယ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

၎င်းလုပ်ငန်းကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန် အတွက် လုပ်ငန်းစီမံကိန်းများကို ချမှတ်ထားသောနည်းလမ်းများအတိုင်း ဆောင်ရွက်ရန်စီစဉ်ထားပါသည်။ သို့ဖြစ်ပါ၍ လူမှုရေး ထိခိုက်မှုဆန်းစစ်ခြင်း Initial Enviromental Examination (IEE), နှင့် Environmental Management Paln (EMP) များအား ဆောင်ရွက်ရန် စီစဉ်ထားပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ခွင့်ပြုချက် ရရှိပါက ဆက်လက်ဆောင်ရွက်သွားမည် ဖြစ်ကြောင်းနှင့် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဆိုင်ရာမူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ တို့နှင့်အညီလည်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

လေးစားစွာဖြင့်

**U Ye Htut @ U Ye Myint**
**Managing Director**
**Sinminn Cement Industry Co., Ltd.**

SINMINN CEMENT
Industry Co., Ltd.

Building-2, Room-1, Myanmar ICT-Park,
University Hlaing Compus, Yangon, Myanmar.
Tel : (951) 652248, 521504
Fax : (951) 652248
E-mail : myassoco@mptmail.net.mm

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ ။ ။ ၂၀၁၄ ခုနှစ် ၊ ဒီဇင်ဘာ လ ၊ ( ၃၁ ) ရက်။

အကြောင်းအရာ။ ။ မတည်ရင်းနှီးငွေတိုးမြင့်မည်ဖြစ်ကြောင်းဝန်ခံကတိပြုတင်ပြခြင်း။

အထက်ပါအကြောင်းအရာနှင့်စပ်လျဉ်း၍ ရွှေ ဘိလပ်မြေ ကုမ္ပဏီ လီမိတက် (Gold Cement Co.,Ltd) နှင့် မြန်မာ့စီးပွားရေးဦးပိုင် လီမိတက် (MEHL) တို့ အကျိုးတူပူးပေါင်း၍ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းထားသော ဆင်မင်းဘိလပ်မြေ စက်မှု လက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Sinminn Cement Industry Co.,Ltd) သည် မန္တလေးတိုင်း၊ ကျောက်ဆည်မြို့နယ်၊ ဖျောက်ဆိပ်ကျေးရွာအနီး ကားလမ်း မိုင်တိုင်အမှတ် (၇/၃) နှင့်(၈/၀)အကြား နွားလည်ကောက်တောင်ခြေ အနီးတွင်မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ တည်ဆောက်ထားသော တနေ့တန် (၇၀၀) ကျဆင်မင်း(၂) ဘိလပ်မြေစက်ရုံ အပေါ် ခေတ်မီစက်ကရိယာများထပ်မံဖြည့်စွက် ရင်းနှီးမြှုပ်နှံလျက် တနေ့တန်(၁၀၅၀) ကျ ဘိလပ်မြေစက်ရုံ တည်ထောင်ပြီး အရည်အသွေးကောင်းမွန်သော ဘိလပ်မြေများကိုထုတ်လုပ် ရောင်းချနိုင်ရန် ရည်ရွယ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

ကျွန်တော်တို့၏ ဆင်မင်းဘိလပ်မြေ စက်မှုလက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုချက် ရရှိပါက မတည်ရင်းနှီးငွေတိုးခြင်းကိုတင်ပြမည်ဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

လေးစားစွာဖြင့်

U Ye Htut @ U Ye Myint
Managing Director
Sinminn Cement Industry Co., Ltd.

